ကုမ္ပဏီအမည် - မန္တလေးရွှေသူငယ်ချင်း သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက်
(Mandalay Golden Friend Mining Co., Ltd.)

လုပ်ငန်း - အဆင့်မြင့် ပြည်တွင်းဖြစ် အရက် ထုတ်လုပ် ဖြန့်ဖြူးခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၇-၁-၂၀၁၅ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း<br>(က) စီမံကိန်း စိစစ်ရေးနှင့် တိုးတက်မှု အစီရင်ခံရေးဦးစီးဌာန<br>(ခ) မွန်ပြည်နယ်အစိုးရအဖွဲ့<br>(ဂ) ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန | <br>၈-၁-၂၀၁၅<br><br>၁၃-၁-၂၀၁၅<br>၁၃-၁-၂၀၁၅ | <br>၁၃-၁-၂၀၁၅<br><br>၂၅-၁-၂၀၁၅<br>၂၇-၁-၂၀၁၅ | |
| ၃ | အဆိုပြုချက် စိစစ်ရေးအဖွဲ့ အစည်းအဝေး (၂/ ၂၀၁၅) သို့ တင်ပြခြင်း | ၁၂-၁-၂၀၁၅ | | |
| ၄ | အဆိုပြုလွှာ လက်ခံကြောင်းပြန်ကြားခြင်း | ၁၃-၁-၂၀၁၅ | | |
| ၅ | ကုမ္ပဏီမှ အဆိုပြုချက် ပြန်လည်ပြင်ဆင် တင်ပြလာသည့်နေ့ | ၂-၂-၂၀၁၅ | | |
| ၆ | အဆိုပြုလုပ်ငန်းအားမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃/၂၀၁၅ )ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခြင်း | ၂၇-၂-၂၀၁၅ | | |
| | စုစုပေါင်းကြာမြင့်ရက် | ၅၁ ရက် | | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | မန္တလေး ရွှေသူငယ်ချင်း သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက် (Mandalay Golden Friend Mining Co.,Ltd.) |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - | ရာခိုင်နှုန်းပြည့် နိုင်ငံသား ရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | အဆင့်မြင့် ပြည်တွင်းဖြစ် အရက် ထုတ်လုပ် ဖြန့်ဖြူးခြင်းလုပ်ငန်း |
| တည်နေရာ | - | မွန်ပြည်နယ်၊ မော်လမြိုင်မြို့နယ်၊ နတ်ကျွန်းရပ်၊ မုပွန်ရပ်ကွက်ရှိ စက်ရုံနှင့် ကွင်းရပ်ကွက်၊ ဇင်ယော်လမ်း၊ အမှတ် (၁၈) ဝန်ထမ်းအိမ်ရာ |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၄၀၀၀.၀၀ သန်း (US$ ၁.၉၃ သန်း အပါအဝင်) |
| ရောင်းချမည့်စနစ် | - | ပြည်တွင်း ၁၀၀ % |
| လုပ်ငန်းသက်တမ်း | - | ကနဦး ၅၀ နှစ်နှင့် နောက်ထပ် (၁၀) နှစ် သက်တမ်းတိုးနှစ်ကြိမ် |
| အရင်းကြေကာလ | - | ၃ နှစ် ၁၁ လ |
| IRR | - | ၂၃.၁၂% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၁.၅၄၈ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၆၅ သန်း |
| ၃ | ကုန်သွယ်လုပ်ငန်းခွန် | - | ကျပ် ၇၉၆၄.၈၄၀ သန်း |
| ၄ | ဝင်ငွေခွန် | ကျပ် ၁၂၁၉.၆၆ သန်း | ကျပ် ၅၈၉.၁၆၀ သန်း |
| ၅ | လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၁၂၃.၆၀ သန်း |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ် ဝင်ငွေ ကျပ်သိန်းနှစ်ဆယ် ထက် ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း (၄) ဦး |
| ၇ | CSR (၂ %) | | ကျပ် ၃၅.၃၄ သန်း |
| ၈ | မြေငှားရမ်းခရငွေ | | ကျပ် ၁၂၀ သန်း |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၈၅ ဦး<br>ပြည်တွင်းလုပ်သား (၈၅) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့်ဒေသ စီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | | ကျပ် ၁၂၂၁.၂၁ သန်း | ကျပ် ၈၈၃၄.၁၁ သန်း |
| | Cost & Benefit | ၁ : ၇ | |

အကြောင်းအရာ။ **Mandalay Golden Friend Mining Co., Ltd. (မန္တလေးရွှေသူငယ်ချင်းသတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက်) မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် အဆင့်မြင့်ပြည်တွင်းဖြစ် အရက်ထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်းဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Mandalay Golden Friend Mining Co., Ltd.<br>(မန္တလေးရွှေသူငယ်ချင်းသတ္တုတူးဖော်ရေးကုမ္ပဏီလီမိတက်)<br>- ဦးဇော်ဝင်း (အဘ-ဦးခင်မောင်)<br>(မန်နေဂျင်းဒါရိုက်တာ) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - အဆင့်မြင့် ပြည်တွင်းဖြစ် အရက် ထုတ်လုပ် ဖြန့်ဖြူးခြင်း လုပ်ငန်း |
| ၂။ | လုပ်ငန်းတည်နေရာ | - မွန်ပြည်နယ်၊ မော်လမြိုင်မြို့နယ်၊ နတ်ကျွန်းရပ်၊ မုပွန်ရပ်ကွက်ရှိ စက်ရုံနှင့် ကွင်းရပ်ရပ်ကွက်၊ ဇင်ယော်လမ်း၊ အမှတ် (၁၈) ရှိ ရေခဲစက် ဝန်ထမ်း အိမ်ရာ |
| | မြေအကျယ်အဝန်း | - စက်ရုံနှင့်မြေ (၆.၆၉၄)ဧကနှင့် ဝန်ထမ်းအိမ်ရာ (၄.၇၇၄)ဧက စုစုပေါင်း (၁၁.၄၆၈)ဧက |
| ၃။ | စက်ရုံ၊ မြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းများ ငှားရမ်းခ | - တစ် နှစ်လျှင် ကျပ် ၆၀.၀၀ သန်း |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၅၀ နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် |
| | တည်ဆောက်ရေးကာလ | - ၁၂ လ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | **- ကျပ် ၄၀၀၀.၀၀ သန်း(US$ ၁.၉၃ သန်း အပါအဝင်)** |
| | ထည့်ဝင်သည့်အမျိုးအစား | (see table below) |
| ၆။ | ရောင်းချမည့် နည်းစနစ် | - ပြည်တွင်း ၁၀၀ % |

| | **ကျပ် (သန်း)** | **US$ (သန်း)** | **စုစုပေါင်း ကျပ်(သန်း)** |
|---|---|---|---|
| ငွေပမာဏ | ၁၇၀၉.၀၇ | | ၁၇၀၉.၀၇ |
| စက်ပစ္စည်းတန်ဖိုး | | ၁.၉၃ | ၁၈၈၇.၄၈ |
| အဆောက်အအုံများ | ၄၀၀.၀၀ | | ၄၀၀.၀၀ |
| ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | ၃.၄၅ | | ၃.၄၅ |
| **စုစုပေါင်း** | **၂၁၁၂.၅၂** | **၁.၉၃** | **၄၀၀၀.၀၀** |

| | | |
|---|---|---|
| ၇။ | ဝင်ငွေ (ဆဋ္ဌမမြောက်နှစ်) | - ကျပ် ၁၁၉၄၇.၂၆ သန်း |
| | အသုံးစရိတ် | - ကျပ် ၁၁၀၆၃.၅၁ သန်း |
| | အသားတင်အမြတ် | - ကျပ် ၈၈၃.၇၅ သန်း |
| ၈။ | ဝန်ထမ်းအင်အား (ပြည်တွင်း) | - **(၈၅) ဦး**<br>- (ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၉၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ၃၀၀,၀၀၀ဖြစ်ပါသည်။ |
| ၉။ | နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (၆)နှစ်မြောက် | |

| စဉ် | ပစ္စည်း အမျိုးအစား | ရေတွက် ပုံ | A-Grade | | B-Grade | | C-Grade | | RS | |
|---|---|---|---|---|---|---|---|---|---|---|
| | | | အရေ အတွက် | ရောင်း ဈေးနှုန်း (ကျပ်) | အရေ အတွက် | ရောင်း ဈေးနှုန်း (ကျပ်) | အရေ အတွက် | ရောင်း ဈေးနှုန်း (ကျပ်) | အရေ အတွက် | ရောင်း ဈေးနှုန်း (ကျပ်) |
| ၁ | 700 ml | 12bottle/box | 30,000 | 60,000 | 45,000 | 40,500 | 75,000 | 20,000 | | |
| ၂ | 350 ml | 24 bottle/box | 18,000 | 60,000 | 27,000 | 40,500 | 45,000 | 20,000 | | |
| ၃ | 175 ml | 48 bottle/box | 12,000 | 60,000 | 18,000 | 40,500 | 30,000 | 20,000 | | |
| ၄ | (RS) 275 ml | 24 bottle/box | | | | | | | 36,000 | 16,000 |

| | | |
|---|---|---|
| ၁၀။ | နိုင်ငံတော်မှရရှိမည့် အကျိုး အမြတ် (ဆဋ္ဌမမြောက်နှစ်) | |
| | ဝင်ငွေခွန် | - ကျပ် ၂၉၄.၅၈ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၃၉၈၂.၄၂ သန်း |
| | အရင်းကြေကာလ | - ၃ နှစ် နှင့် ၁၁ လ |
| | အရင်းအနှီးပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၂၃.၁၂ % |
| ၁၁။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု(နှစ်စဉ်) | - ၄၉၂၀၀၀ Kwh |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၂/ မ- ၂၀၅ / ၂၀၁၅ ( ၁၁၅ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ၂၂ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မန္တလေးရွှေသူငယ်ချင်း သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက် (Mandalay Golden Friend Mining Co., Ltd.) မှ စက်မှုဝန်ကြီးဌာနပိုင် မြေကို ငှားရမ်း၍ B.O.T စနစ်ဖြင့် အဆင့်မြင့် ပြည်တွင်းဖြစ် အရက် ထုတ်လုပ် ဖြန့်ဖြူးခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ မန္တလေး ရွှေသူငယ်ချင်း သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက် (Mandalay Golden Friend Mining Co.,Ltd.)သည် စက်မှုဝန်ကြီးဌာနပိုင် မွန်ပြည်နယ်၊ မော်လမြိုင်မြို့နယ်၊ နတ်ကျွန်းရပ်၊ မုပွန်ရပ်ကွက်ရှိ စက်ရုံနှင့် မြေ (၆.၆၉၄)ဧကနှင့် ကွင်းရပ်ရပ်ကွက်၊ ဇင်ယော်လမ်း၊ အမှတ် (၁၈) ဝန်ထမ်းအိမ်ရာ၏ မြေ (၄.၇၇၄)ဧက စုစုပေါင်း (၁၁.၄၆၈) ဧကကို B.O.T စနစ်ဖြင့် ကနဦး(၅၀)နှစ်နှင့် နောက်ထပ် (၁၀)နှစ် (၂)ကြိမ် ငှားရမ်း၍ အဆင့်မြင့် ပြည်တွင်းဖြစ် အရက် ထုတ်လုပ် ဖြန့်ဖြူးခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် စက်မှုဝန်ကြီးဌာနမှတဆင့် ရင်းနှီးမြှုပ်နှံသူ ဦးဇော်ဝင်း(အဘ-ဦးခင်မောင်) မှ အဆိုပြုချက် တင်ပြလာခြင်း ဖြစ်ပါသည်။

၂။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာမှာ မုပွန် ရပ်ကွက်ရှိ စက်ရုံနှင့် မြေ (၆.၆၉၄)ဧက နှင့် ကွင်းရပ်ရပ်ကွက်၊ ဇင်ယော်လမ်း၊ အမှတ် (၁၈) ဝန်ထမ်း အိမ်ရာ၏ မြေ (၄.၇၇၄)ဧက စုစုပေါင်း (၁၁.၄၆၈)ဧက ဖြစ်ပါသည်။ စက်မှုဝန်ကြီးဌာန၊ ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်းနှင့် မန္တလေး ရွှေသူငယ်ချင်း သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက် (Mandalay Golden Friend Mining Co.,Ltd.) တို့အကြား ချုပ်ဆိုမည့် မော်လမြိုင်အမှတ်(၄) အရက်ချက်စက်ရုံခွဲ၊ ရေခဲစက် ဝန်ထမ်း အိမ်ရာနှင့် မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းများအား ကနဦး နှစ် ၅၀ နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ငှားရမ်းခြင်း သဘောတူ စာချုပ် ပြင်ဆင်ချက်(မူကြမ်း) ကို တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ US$ ၁.၉၃ သန်း အပါအဝင် ကျပ် ၄၀၀၀.၀၀ သန်း ဖြစ်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| | | ကျပ် (သန်း) | US$ (သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|---|
| (က) | ငွေပမာဏ | ၁၇၀၉.၀၇ | | ၁၇၀၉.၀၇ |
| (ခ) | စက်ပစ္စည်းတန်ဖိုး | | ၁.၉၃ | ၁၈၈၇.၄၈ |
| (ဂ) | အဆောက်အအုံများ | ၄၀၀.၀၀ | | ၄၀၀.၀၀ |
| (ဃ) | ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ | ၃.၄၅ | | ၃.၄၅ |
| | **စုစုပေါင်း** | ၂၁၁၂.၅၂ | ၁.၉၃ | ၄၀၀၀.၀၀ |

၄။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ (၈၅) ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်း၏ အနိမ့်ဆုံး လစာမှာ ကျပ် ၉၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၃၀၀,၀၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ထုတ်ကုန်များကို ပြည်တွင်း ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်(ဆဋ္ဌမမြောက်နှစ်)ရှိ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | ပစ္စည်း အမျိုးအစား | ရေတွက်ပုံ | A-Grade | | B-Grade | | C-Grade | | RS | |
|---|---|---|---|---|---|---|---|---|---|---|
| | | | အရေ အတွက် | ရောင်း ဈေးနှုန်း (ကျပ်) | အရေ အတွက် | ရောင်း ဈေးနှုန်း (ကျပ်) | အရေ အတွက် | ရောင်း ဈေးနှုန်း (ကျပ်) | အရေ အတွက် | ရောင်း ဈေးနှုန်း (ကျပ်) |
| ၁ | 700 ml | 12bottle/box | 30,000 | 60,000 | 45,000 | 40,500 | 75,000 | 20,000 | | |
| ၂ | 350 ml | 24 bottle/box | 18,000 | 60,000 | 27,000 | 40,500 | 45,000 | 20,000 | | |
| ၃ | 175 ml | 48 bottle/box | 12,000 | 60,000 | 18,000 | 40,500 | 30,000 | 20,000 | | |
| ၄ | (RS) 275 ml | 24 bottle/box | | | | | | | 36,000 | 16,000 |

၆။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် (ဆဋ္ဌမမြောက်နှစ်)တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | | ကျပ်ငွေ (သန်း) |
|---|---|---|---|
| (က) | ဝင်ငွေ | - | ၁၁,၉၄၇.၂၆ |
| (ခ) | အသုံးစရိတ် | - | ၁၁,၀၆၃.၅၁ |
| (ဂ) | အသားတင်အမြတ် | - | ၈၈၃.၇၅ |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ဆဋ္ဌမမြောက်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေအနေဖြင့် ဝင်ငွေခွန်မှာ ကျပ် ၂၉၄.၅၈ သန်းနှင့် ကုန်သွယ် လုပ်ငန်းခွန်မှာ ကျပ် ၃၉၈၂.၄၂ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေ ကာလမှာ ၃ နှစ်နှင့် ၁၁ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၂၃.၁၂% ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၉၈၀ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။

၈။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **မွန်ပြည်နယ်အစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှုပြုမည့် နေရာသည် မြို့ပြစီမံကိန်းကို ထိခိုက်မှု မရှိကြောင်း၊ အဆင့်မြင့် ပြည်တွင်းဖြစ် အရက်ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်မှုကြောင့် မြို့နယ်၊ ဒေသအလုပ်အကိုင် အခွင့်အလမ်းများ ရရှိလာမည် ဖြစ်ပြီး ဒေသစီးပွားရေးကုန်သွယ်မှု၊ ဝန်ဆောင်မှု ကဏ္ဍများ ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူပြုခြင်းနှင့် လုပ်ငန်းလည်ပတ် ဆောင်ရွက်နိုင်ခြင်း ဖြင့်ဒေသခံများမှ လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးတို့အရ လက်ခံနိုင်ခြင်း ရှိကြောင်း ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ -ခ)**

(ခ) **ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန** မှ အရက်ချက်လုပ်ငန်းမှ ထွက်ရှိလာသော စွန့်ပစ်ရည်ကို အက်စစ်ဓာတ် လွန်ကဲခြင်း၊ အယ်လ်ကာလီဓာတ် လွန်ကဲခြင်း၊ အပူချိန်မြင့်မားခြင်း၊ အဆိပ်အတောက် ဖြစ်စေသော ဓာတုပစ္စည်းများ ပါဝင်နေခြင်း အစရှိသည့် အခြေအနေများတွင် မြစ်၊ ချောင်း၊ အင်း၊ အိုင်များအတွင်းသို့ တိုက်ရိုက် စွန့်ပစ်ခြင်း မပြုလုပ်ရန်လိုအပ်ပါကြောင်း၊ အရက်ပြင်းထုတ်လုပ်ခြင်း၊ ပေါင်းတင်ခြင်း၊ ရောနှောခြင်း၊ အရောင်ဆိုးခြင်း၊ အနံ့ထည့်ခြင်း၊ ပုလင်းသွပ်ခြင်း အစရှိသည့် လုပ်ငန်းအဆင့်ဆင့်တွင် အသုံးပြုမည့်

ဓာတုပစ္စည်းများနှင့် ယင်းလုပ်ငန်းမှ ထွက်ရှိလာသည့် စွန့်ပစ် အရည်များကို မြစ်၊ ချောင်း၊ အင်း၊ အိုင်များအတွင်းသို့ စွန့်ပစ်ရမည့် အခြေအနေဖြစ်ပါက လိုအပ်သော သန့်စင်မှု လုပ်ဆောင်ပြီးမှသာ စွန့်ပစ်ရန် လိုအပ်ပါကြောင်း၊ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသော စွန့်ပစ်ပစ္စည်းများကြောင့် ရေထုနှင့်လေထု ညစ်ညမ်းမှုဖြစ်ပေါ်စေနိုင်သဖြင့် ရေထုနှင့်လေထု ညစ်ညမ်းမှု ထိန်းချုပ်ရေး အစီအမံများ ဆောင်ရွက်ထားရှိရန်လိုအပ်ပါကြောင်း၊ အရက်ချက်လုပ်ငန်း ဆောင်ရွက်ခြင်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ဆောင်ရွက်ပြီး အစီရင်ခံစာ တင်ပြရန် လိုအပ်ပါကြောင်း၊ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှုအနည်းဆုံး ဖြစ်စေ မည့် ကုန်ထုတ်လုပ်မှု နည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက် (Environmental Management Plan –EMP) ရေးဆွဲတင်ပြရန်နှင့် အစီရင်ခံစာအရ အကောင်အထည်ဖော် ဆောင်ရွက်ရန် လိုအပ်ပါကြောင်းနှင့် ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်သွားရန် လိုအပ်ပါကြောင်း ပြန်ကြားထားပါသည်။

**(နောက်ဆက်တွဲ -ခ)**

၉။ ငွေရေးကြေးရေး အထောက်အထားအဖြစ် မန်နေဂျင်းဒါရိုက်တာ ဦးဇော်ဝင်း အမည်ဖြင့် ကမ္ဘောဇဘဏ် (မန္တလေးရုံးခွဲ) ရှိ (၃-၁၂-၂၀၁၄)ရက်နေ့ ငွေလက်ကျန် ကျပ် ၅၇၀,၁၁၁,၄၀၉.၉၀ တင်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများ ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ကြောင်း၊ ကုမ္ပဏီသည် လုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်း ကိရိယာများ၊ မီးဘေးကာကွယ်ရေး အစီအမံများ၊ အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့်အခြေအနေ၊ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းသက်သာ ချောင်ချိရေးနှင့် သာယာပျော်ရွှင်ရေး အစီအမံများ၊ လစာခွန်ပေးဆောင်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ထားရှိမှု အခြေအနေနှင့် လျှပ်စစ်ဓာတ်အား ရယူသုံးစွဲမည့် အစီအစဉ်များကို တင်ပြထားပါသည်။

၁၁။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် ဇန်နဝါရီလ ၁၂ ရက်နေ့တွင် ကျင်းပ ပြုလုပ်သည့် ၂/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၂။ **စိစစ်တင်ပြချက်**

(က) မော်လမြိုင်အမှတ်(၄) အရက်ချက်စက်ရုံခွဲ၊ ရေခဲစက်ဝန်ထမ်း အိမ်ရာ နှင့် မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းများ ငှားရမ်းသည့်သဘောတူစာချုပ်အား ပထမအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ် တင်ပြထားပါသည်။

(ခ) မန္တလေးရွှေသူငယ်ချင်း သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက် (Mandalay Golden Friend Mining Co.,Ltd.)အမည်ဖြင့် ဘီယာထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၄ ခုနှစ် အောက်တိုဘာလ ၂၁ ရက်စွဲပါ ခွင့်ပြုမိန့်အမှတ်၊ မနသ- ၉၉၇/၂၀၁၄ ဖြင့် ခွင့်ပြုမိန့် ထုတ်ပေးခဲ့ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၃။ မန္တလေး ရွှေသူငယ်ချင်း သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက် (Mandalay Golden Friend Mining Co.,Ltd.)သည် စက်မှုဝန်ကြီးဌာနပိုင် မွန်ပြည်နယ်၊ မော်လမြိုင်မြို့နယ်၊ နတ်ကျွန်းရပ်၊ မုပွန်ရပ်ကွက်ရှိ စက်ရုံနှင့် မြေ (၆.၆၉၄)ဧကနှင့် ကွင်းရပ်ကွက်၊ ဇင်ယော်လမ်း၊ အမှတ် (၁၈) ဝန်ထမ်းအိမ်ရာ၏ မြေ (၄.၇၇၄)ဧက စုစုပေါင်း (၁၁.၄၆၈) ဧကကို B.O.T စနစ်ဖြင့် ကနဦး(၅၀)နှစ်နှင့် နောက်ထပ် (၁၀)နှစ် (၂)ကြိမ် ငှားရမ်း၍ အဆင့်မြင့် ပြည်တွင်းဖြစ် အရက်ထုတ်လုပ် ဖြန့်ဖြူးခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြု ပါရန် အဆိုပြုချက် တင်ပြခြင်းအပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူ

ရုံးလက်ခံ/မျှောစာတွဲ

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | မန္တလေးရွှေသူငယ်ချင်း သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက် (Mandalay Golden Friend Mining Co., Ltd.) | (၁) ဦးဇော်ဝင်း ၉/မရမ(နိုင်) ၀၁၁၆၂၄ | အမှတ်- (၃)၊ (၁၄) လမ်းနှင့် (၁၅) လမ်းကြား၊ပြည်ကြီးရန်လုံရပ်ကွက်၊ အောင်မြေသာဇံ မြို့နယ်၊ မန္တလေး တိုင်း ဒေသကြီး။ |
| | | (၂) ဦးနေမျိုးအောင် ၅/ပလန(နိုင်) ၀၃၅၄၈၉ | အမှတ်(ခ/၈/၂၈)၊ (၆၅)လမ်း၊ ချမ်းမြေ့သာဇံမြို့နယ်၊ မန္တလေးတိုင်း ဒေသကြီး။ |
| | | (၃) ဦးဇင်လှိုင် ၉/မရမ(နိုင်) ၀၉၁၆၀၁ | အမှတ်(၂၇၃/ခ)၊ (၆၃)လမ်း၊ (၂၈) လမ်းနှင့် (၂၉)လမ်းကြား၊ အောင်တော်မူရပ်ကွက်၊ ချမ်းအေး သာဇံမြို့နယ်၊ မန္တလေးတိုင်း ဒေသကြီး။ |
| | | (၄) ဦးခင်အောင် ၁၂/စခန(နိုင်) ၀၆၄၂၈၆ | အမှတ်(၁၉)၊ အခန်း(၄)၊ ဝေဠုဝန်(မြောက်)ရပ်ကွက်၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်။ |
| | | (၅) ဦးစင်ဂျီ(ခ)ဦးကျော်ကျော် ၉/အမရ(နိုင်) ၀၀၀၄၀၆ | အမှတ်(၁၀)၊ သိမ်ကြီးရပ်ကွက်၊ အမရပူရမြို့နယ်၊ မန္တလေးတိုင်း ဒေသကြီး။ |

| | | | |
|---|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - | ၀၉- ၇၃၀၈၇၇၇၈ |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | - | အမှတ်(၁၉)၊ အခန်း(၄)၊ ဝေဠုဝန်(မြောက်) ရပ်ကွက်၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်။ |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - | ဦးခင်အောင် |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့် လုပ်ငန်းများ | - | အဆင့်မြင့် ပြည်တွင်းဖြစ် အရက် ထုတ်လုပ် ဖြန့်ဖြူး ခြင်းလုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - | - |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - | - |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - | - |

**နောက်ဆက်တွဲ(က)**



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်နယ်အစိုးရအဖွဲ့

မွန်ပြည်နယ်

စာအမှတ် ၊ ၃၀၀ / ၁ - ၁၈/ ၀၁၈ (မွန်)

ရက်စွဲ ၊၂၀၁၅ ခုနှစ်၊ ဇန်နဝါရီလ ၂၅ ရက်

သို့



ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကင်းမြို့နယ် ၊ ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၃-၁-၂၀၁၅) ရက်စွဲပါစာအမှတ်၊ ရက- ၂/ မ - ၂၀၅ / ၂၀၁၅ (၀၂၀)

၁။ မန္တလေး ရွှေသူငယ်ချင်း သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက်သည် စက်မှုဝန်ကြီးဌာနပိုင် မွန်ပြည်နယ်၊ မော်လမြိုင်မြို့နယ်၊ နတ်ကျွန်းရပ်၊ မုပွန်ရပ်ကွက်ရှိ စက်ရုံ နှင့် မြေ (၆. ၆၉၄) ဧကနှင့် ကွင်းရပ်ကွက်၊ ဇင်ယော်လမ်း ၊ အမှတ်(၁၈)ဝန်ထမ်းအိမ်ရာ၏ မြေ(၄. ၇၇၄)ဧက **စုစုပေါင်း(၁၁. ၄၆၈)ဧကကို** ငှားရမ်း၍ **B.O.T** စနစ်ဖြင့် အဆင့်မြင့်ပြည်တွင်းဖြစ် အရက်ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် မန္တလေး ရွှေသူငယ်ချင်း ကုမ္ပဏီ မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ခြင်းအပေါ် မွန်ပြည်နယ်အစိုးရ မှ သဘောထား ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ပေးပို့ခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ မွန်ပြည်နယ် ၊ မော်လမြိုင်မြို့နယ် ၊ နတ်ကျွန်းရပ် ၊ မုပွန်ရပ်ကွက်ရှိ စက်မှုဝန်ကြီး ဌာနပိုင် အရက်ချက်စက်ရုံတွင် **B.O.T** စနစ်ဖြင့် အဆင့်မြင့်ပြည်တွင်းဖြစ် အရက်ထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်းအား လာရောက်ရင်းနှီးမြှုပ်နှံမည့် ကုမ္ပဏီအနေဖြင့် **စက်မှုဝန်ကြီးဌာနပိုင် စက်ရုံမြေနေရာတွင်** ဆောင်ရွက်မည်ဖြစ်ပါသဖြင့် နောင်တွင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်မှုမရှိခြင်း ၊ အဆင့်မြင့်ပြည်တွင်းဖြစ် အရက်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မှုကြောင့် မြို့နယ် ၊ ဒေသ အလုပ်အကိုင်အခွင့် အလမ်းများ ရရှိလာမည်ဖြစ်ပြီး ဒေသစီးပွားရေးကုန်သွယ်မှု ၊ ဝန်ဆောင်မှုကဏ္ဍများ ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူပြုခြင်း နှင့် လုပ်ငန်းလည်ပတ်ဆောင်ရွက်နိုင်ခြင်းဖြင့် ဒေသခံများ မှ လူမှုရေး ၊ စီးပွားရေး ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးတို့အရ လက်ခံနိုင်ခြင်းရှိပါသဖြင့် သတ်မှတ်စည်းမျဉ်းစည်းကမ်းများ နှင့် အညီ ဆောင်ရွက်မည်ဆိုပါက **ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားပါသည်။**

အုန်းမြင့်

ပြည်နယ်ဝန်ကြီးချုပ်

Thaung Nu (II)
35

မိတ္တူကို

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး ၊ နေပြည်တော်

မန္တလေး ရွှေသူငယ်ချင်းသတ္တုတူးဖော်ရေး ကုမ္ပဏီ

ရုံးလက်ခံစာတွဲ

မျှောစာတွဲ

နောက်ဆက်တွဲ(ခ)



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၂/၂၂၀(ခ)(၆)/( ၇၁၂ /၂၀၁၅)
ရက်စွဲ ၂၀၁၅ခုနှစ်၊ဇန်နဝါရီလ ၂၈ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၃-၁-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက-၂/ မ-၂၀၅ /၂၀၁၅(၀၁၉)

၁။ အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မန္တလေးရွှေသူငယ်ချင်းသတ္တုတူးဖော်ရေးကုမ္ပဏီလီမိတက် (Mandalay Golden Friend Mining Co., Ltd) သည် စက်မှုဝန်ကြီးဌာနပိုင် မွန်ပြည်နယ်၊ မော်လမြိုင်မြို့နယ်၊ နတ်ကျွန်းရပ်၊ မူပွန်ရပ်ကွက်ရှိ စက်ရုံနှင့် မြေ (၆.၆၉၄) ဧက နှင့် ကွင်းရပ်ကွက်၊ ဇင်ယော်လမ်း၊ အမှတ်(၁၈) ဝန်ထမ်းအိမ်ရာ၏ မြေ(၄.၇၇၄) ဧက စုစုပေါင်း (၁၁.၄၆၈) ဧကကို ငှားရမ်း၍ B.O.T စနစ်ဖြင့် အဆင့်မြင့်ပြည်တွင်းဖြစ် အရက်ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန်ကိစ္စအပေါ် စိစစ်ပြီး သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပေးပို့လာသောအဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ်ဖြစ်ပြီး တစ်ကြိမ်လျှင် (၁၀) နှစ်ဖြင့် (၂) ကြိမ်သက်တမ်းတိုး ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း၊ မီးဘေးလုံခြုံရေးစီမံချက်များ၊ အလုပ်သမားများ/ဝန်ထမ်းများ သက်သာချောင်ချိရေး၊ လုပ်ငန်းခွင်သာယာရေးနှင့် ကျန်းမာရေး အစီအစဉ်များ ဖော်ပြထားပါသည်။ ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရေးအတွက် စနစ်တကျအမှိုက်စွန့်ပစ်ခြင်းနှင့် ရေမြောင်းများအား ရေစီးရေလာကောင်းမွန်စေရန် စနစ်တကျ ဖောက်လုပ်ထားရှိမည်ဖြစ်ကြောင်း၊လူမှုရေးဆိုင်ရာတာဝန်ခံမှု(Corporate Social Responsibility-CSR) အတွက် ကုမ္ပဏီ၏အသားတင်အမြတ်ငွေထဲမှ (၂%)အား ထည့်ဝင်သွားမည်ဖြစ်ကြောင်း ဖော်ပြထားသည်ကို စိစစ်တွေ့ရှိရပါသည်။

၃။ အဆိုပြုလုပ်ငန်းဆောင်ရွက်မည်ဆိုပါက အရက်ချက်လုပ်ငန်းမှ ထွက်ရှိလာမည့် အခိုးအငွေ့များတွင်ပါဝင်သည့် အဆုတ်နှင့်အသက်ရှူလမ်းကြောင်းထိခိုက်စေနိုင်သော အလွန်သေးငယ်သည့် အမှုန်အမွှားများ(PM10) ၊ ကျပ်ခိုးနှင့် ကာဗွန်မိုနောက်ဆိုဒ် (CO) တို့ကြောင့် လေထုညစ်ညမ်းခြင်း၊ ဇီဝ ရာခိုင်နှုန်းပြင်းအားရှိစိမ်ရည်ကို အရစ်ကျပေါင်းခံသန့်စင်ရာမှလည်းကောင်း၊ ရရှိသောအရက်ကို ပုလင်းထဲသို့ ထည့်သွင်းရန် ဆေးကြောသန့်စင်ရာမှလည်းကောင်း ထွက်ရှိသည့် စွန့်ပစ်ရည် နှင့် စိမ်ရည်ကန်မှ အကြွင်းအကျန် အနည်အဖတ်များကို ပြုပြင်သန့်စင်ခြင်း မရှိဘဲ

စွန့်ပစ်ခြင်းကြောင့် ပတ်ဝန်းကျင်မြေထု၊ ရေထုညစ်ညမ်းခြင်း ၊ ယင်းစွန့်ပစ်အရည်များကြောင့် ပတ်ဝန်းကျင် အပူချိန်မြင့်တက်စေပြီး ကစော်ဓာတ်ပေါက်၍ အနံ့ဆိုးများ ထွက်ရှိခြင်းကြောင့် စက်ရုံအနီး ပတ်ဝန်းကျင်ရှိ လေထုညစ်ညမ်းခြင်း ၊ ပြည်သူများ၏ ကျန်းမာရေး ထိခိုက်ခြင်း စသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ မန္တလေးရွှေသူငယ်ချင်း သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက် (Mandalay Golden Friend Mining Co., Ltd) သည် စက်မှုဝန်ကြီးဌာနပိုင် မွန်ပြည်နယ်၊ မော်လမြိုင်မြို့နယ် ၊ နတ်ကျွန်းရပ် ၊ မူပွန်ရပ်ကွက်ရှိ စက်ရုံနှင့် မြေ(၆.၆၉၄)ဧက နှင့် ကွင်းရပ်ကွက်၊ ဇင်ယော်လမ်း၊ အမှတ်(၁၈) ဝန်ထမ်းအိမ်ရာ၏ မြေ(၄.၇၇၄) ဧက စုစုပေါင်း (၁၁.၄၆၈) ဧကကို ငှားရမ်း၍ B.O.T စနစ်ဖြင့် အဆင့်မြင့်ပြည်တွင်းဖြစ် အရက်ထုတ်လုပ် ဖြန့်ဖြူးခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်-

(က) အရက်ချက်လုပ်ငန်းများမှ ထွက်ရှိလာသော စွန့်ပစ်ရည်ကို အက်စစ်ဓာတ်လွန်ကဲခြင်း၊ အယ်လ်ကာလီဓာတ်လွန်ကဲခြင်း၊ အပူချိန်မြင့်မားခြင်း၊ အဆိပ်အတောက်ဖြစ်စေသော ဓာတုပစ္စည်းများပါဝင်နေခြင်း အစရှိသည့် အခြေအနေများတွင် မြစ်၊ ချောင်း ၊အင်း၊ အိုင်များအတွင်းသို့ တိုက်ရိုက်စွန့်ပစ်ခြင်း မပြုလုပ်ရန်၊

(ခ) အရက်ပြင်းထုတ်လုပ်ခြင်း၊ ပေါင်းတင်ခြင်း၊ ရောနှောခြင်း၊ အရောင်ဆိုးခြင်း၊ အနံ့ ထည့်ခြင်း၊ ပုလင်းသွပ်ခြင်း အစရှိသည့် လုပ်ငန်းအဆင့်ဆင့်တွင် အသုံးပြုမည့် ဓာတုပစ္စည်းများနှင့် ယင်းလုပ်ငန်းမှ ထွက်ရှိလာသည့် စွန့်ပစ်အရည်များကို မြစ်၊ ချောင်း၊ အင်း၊ အိုင်များအတွင်းသို့ စွန့်ပစ်ရမည့်အခြေအနေဖြစ်ပါက လိုအပ်သော သန့်စင်မှု လုပ်ဆောင်ပြီးမှသာ စွန့်ပစ်ရန်၊

(ဂ) အဆိုပြုလုပ်ငန်းမှထွက်ရှိလာသော စွန့်ပစ်ပစ္စည်းများကြောင့် ရေထု နှင့် လေထု ညစ်ညမ်းမှုဖြစ်ပေါ်စေနိုင်သဖြင့် ရေထု နှင့် လေထု ညစ်ညမ်းမှု ထိန်းချုပ်ရေး အစီအမံများ ဆောင်ရွက်ထားရှိရန်၊

(ဃ) အရက်ချက်လုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ပတ်ဝန်းကျင် နှင့် လူမှုရေးထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment- EIA) ဆောင်ရွက်ပြီး အစီရင်ခံစာတင်ပြရန်၊

(င) လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် ကုန်ထုတ် လုပ်မှုနည်းပညာများ ၊ လုပ်ငန်းအစီအစဉ် ၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက် (Environmental Management Plan – EMP ) ရေးဆွဲတင်ပြရန် နှင့် အစီရင်ခံစာအရ အကောင်အထည်ဖော် ဆောင်ရွက် ရန်၊

(စ) ပြဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ ၊ နည်းဥပဒေ ၊ လုပ်ထုံး လုပ်နည်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဆ) သက်ဆိုင်ရာပြည်နယ်အစိုးရအဖွဲ့နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထား များရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုးညွန့် ၊ ရုံး အ ဖွဲ့ မှူး)

မိတ္တူ -ညွှန်ကြားရေးမှူးချုပ် ၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ် ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ် ၊ သစ်တောဦးစီးဌာန

DR 49 11/2

MIC-4 22/10/2

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ၃ ရက်

အကြောင်းအရာ။ **မန္တလေးရွှေသူငယ်ချင်း သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက် (Mandalay Golden Friend Mining Co., Ltd.) မှ စက်မှုဝန်ကြီးဌာနပိုင် မြေကို ငှားရမ်း၍ B.O.T စနစ်ဖြင့် အဆင့်မြင့် ပြည်တွင်းဖြစ် အရက် ထုတ်လုပ် ဖြန့်ဖြူးခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြမည့် **အမှာစာ(စာကြမ်း)** အား ပြုစုတင်ပြအပ်ပါသည်။

| **ရေးသွင်းသူ** | **စိစစ်သူ(၁)** | **စိစစ်သူ(၂)** |
|---|---|---|
| | | 3.1.15 |
| (ချမ်းမြေ့အောင်) | (ဆုလတ်ဖြူ) | (စန္ဒာအောင်) |
| ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | ဦးစီးအရာရှိ |

**ဒုတိယညွှန်ကြားရေးမှူး**

၂။ Cost & benefit တွင် [illegible] Custom Duty. [illegible] Cost benefit ပြင်ဆင် တွက်ချက်ပါ။

4. 3. 2015

ဦးစီးမှူး

၃။ ပြင်ဆင်တင်ပြအပ်ပါသည်။

(ချမ်းမြေ့အောင်)

ဦးစီးအရာရှိ

၄။ ပြင်ဆင်တင်ပြအပ်ပါသည်။

4. 2015

(ဆုလတ်ဖြူ)

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၅ ခုနှစ် မတ်လ ၁၀ ရက်

အကြောင်းအရာ။ **အစည်းအဝေးဆုံးဖြတ်ချက် အကြောင်းကြားခြင်း**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ၂၇ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃/၂၀၁၅) ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်အား ကုမ္ပဏီသို့ အကြောင်းကြားမည့် **စာကြမ်း** အား ပြုစုတင်ပြအပ်ပါသည်။

| **ရေးသွင်းသူ** | **စိစစ်သူ** |
| --- | --- |
| | 10.3.15 |
| (ချမ်းမြေ့အောင်) | (ဆုလတ်ဖြူ) |
| ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ |

**ဒုတိယညွှန်ကြားရေးမှူး**

၂။ ဆက်လက် တင်ပြအပ်ပါသည်။

10.3.2015
[illegible]

ညွှန်ကြားရေးမှူး

၃။ [illegible]

10/3/15




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့
☎ -၀၁-၆၅၈၁၂၇
🖷 -၀၁-၆၅၈၁၃၆

စာအမှတ်၊ရက- ၂ / မ-၂၀၅ /၂၀၁၅ ( ၇၈၂ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် မတ်လ ၁၀ ရက်

အကြောင်းအရာ။ **Mandalay Golden Friend Mining Co., Ltd. မှ စက်မှုဝန်ကြီးဌာနပိုင်မြေကို ငှားရမ်း၍ B.O.T စနစ်ဖြင့် အဆင့်မြင့် ပြည်တွင်းဖြစ် အရက်ထုတ်လုပ် ဖြန့်ဖြူးခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက်တင်ပြခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ စက်မှု ဝန်ကြီးဌာန၏ (၂၁-၁၁-၂၀၁၄) ရက်စွဲပါ စာအမှတ်၊ ၂၃- စမ (၂) ၂၀၁၄-၂၀၁၅(၃၉၆၄)

၁။ Mandalay Golden Friend Mining Co., Ltd. (မန္တလေး ရွှေသူငယ်ချင်း သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက်) သည် စက်မှုဝန်ကြီးဌာနပိုင် မွန်ပြည်နယ်၊ မော်လမြိုင်မြို့နယ်၊ နတ်ကျွန်းရပ်၊ မုပွန်ရပ်ကွက်ရှိ စက်ရုံနှင့် မြေ (၆.၆၉၄)ကေနှင့် ကွင်းရပ်ရပ်ကွက်၊ ဇင်ယော်လမ်း၊ အမှတ် (၁၈) ဝန်ထမ်းအိမ်ရာ၏ မြေ (၄.၇၇၄)ကေ စုစုပေါင်း (၁၁.၄၆၈)ကေကို ငှားရမ်း၍ B.O.T စနစ်ဖြင့် အဆင့်မြင့် ပြည်တွင်းဖြစ် အရက်ထုတ်လုပ် ဖြန့်ဖြူးခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် စက်မှုဝန်ကြီးဌာနမှ တစ်ဆင့်တင်ပြလာခြင်းကို ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ၂၇ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ **"ကုမ္ပဏီအမည်ပြောင်း၍ တင်ပြလာပါက ခွင့်ပြုမိန့် ထုတ်ပေးရန်"** ဆုံးဖြတ်ခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ အထက်ပါ အစည်းအဝေးဆုံးဖြတ်ချက်အား သိရှိဆောင်ရွက်နိုင်ပါရန် အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

Mandalay Golden Friend Mining Co., Ltd.

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

D:\Mandalay Golden Friend Mining Co., Ltd\MIC ...\MIC Decision.doc

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

**၂၀၁၅ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၇ ရက်၊ ၉:၀၀ နာရီတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး အမှတ်(၁) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့၊ အစည်းအဝေးခန်းမ၌ ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၃/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးမှတ်တမ်း**

အောက်ပါပုဂ္ဂိုလ်များ အစည်းအဝေးသို့ တက်ရောက်ကြပါသည် -

| | |
|---|---|
| ဦးဇေယျာအောင်<br>ပြည်ထောင်စုဝန်ကြီး<br>စွမ်းအင်ဝန်ကြီးဌာန | ဥက္ကဋ္ဌ |
| ဦးဌေးအောင်<br>ပြည်ထောင်စုဝန်ကြီး<br>ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန | ဒုတိယဥက္ကဋ္ဌ |
| ဒေါက်တာထွန်းရှင်<br>ပြည်ထောင်စုရှေ့နေချုပ်<br>ပြည်ထောင်စုရှေ့နေချုပ်ရုံး | အဖွဲ့ဝင် |
| ဒေါ်လဲ့လဲ့သိန်း<br>ဒုတိယဝန်ကြီး<br>အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန | အဖွဲ့ဝင် |
| ဒေါက်တာအောင်ထွန်းသက်<br>စီးပွားရေးပညာရှင် | အဖွဲ့ဝင် |
| ဦးညွန့်တင်<br>သံအမတ်ကြီး (အငြိမ်းစား) | အဖွဲ့ဝင် |
| ဦးဝင်းခိုင်<br>ဥက္ကဋ္ဌ<br>မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း | အဖွဲ့ဝင် |
| ဒေါ်ခိုင်ခိုင်နွယ်<br>စီးပွားရေးလုပ်ငန်းရှင် | အဖွဲ့ဝင် |

**၁၀။ မန္တလေးရွှေသူငယ်ချင်း သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက် (Mandalay Golden Friend Mining Co., Ltd.) မှ စက်မှုဝန်ကြီးဌာနပိုင် မြေကို ငှားရမ်း၍ B.O.T စနစ်ဖြင့် အဆင့်မြင့် ပြည်တွင်းဖြစ် အရက် ထုတ်လုပ် ဖြန့်ဖြူးခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

ကော်မရှင်အတွင်းရေးမှူး၊ ဦးအောင်နိုင်ဦးက အမှာစာပါအကြောင်းအရာအား ဖော်ပြလျက် အဓိကအချက်များကိုကုမ္ပဏီမှဆွေးနွေးတင်ပြပေးရန်ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီ၏တာဝန်ရှိသူမှ မော်လမြိုင် အမှတ် (၄)အရက်ချက်စက်ရုံတွင် အရက်၊ ဝီစကီထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း၊ အမှတ်(၉၄) အရက်ချက် စက်ရုံသည် (၁၈၆၀) ခုနှစ်တွင် စတင် လုပ်ငန်းဆောင်ရွက်ခဲ့ကြောင်း၊ ယခုအခါ စက်မှုဝန်ကြီးဌာနမှ လွှဲပြောင်းရယူ၍ ဒေသခံများ အလုပ် အကိုင်အခွင့်အလမ်းများ ရရှိစေရန် တစ်နှစ် လီတာ (၉၉,၀၀၀)ထုတ်လုပ်မည်ဖြစ်ကြောင်း၊ စက်ပစ္စည်း အနေဖြင့် Malt Distillation Unit တစ်ခု ထပ်မံတပ်ဆင်မည်ဖြစ်ကြောင်း၊ အရင်းကြေကာလ(၃)နှစ် (၀၁)လ ဖြစ်ပြီး IRR မှာ ၂၃.၁၂% ဖြစ်ကြောင်း၊ ထုတ်လုပ်မှုစနစ် အနေဖြင့် စက်မှုမှ လွှဲပြောင်းသည့် ပုံစံဖြင့် ဆောင်ရွက်မည်ဖြစ်ကြောင်း၊ CSR နေဖြင့် ဆောင်ရွက်ထားရှိမှာ မီးဘေး ကာကွယ်ရေးအနေဖြင့် အရေးပေါ်ထွက်ပေါက်၊ ဝင်ပေါက်များ စီစဉ်ထားကြောင်းနှင့် ဆေးလိပ်သောက်ခြင်းကို တားမြစ် ထားပါကြောင်း၊ ပုလင်းအမှတ်တံဆိပ်အား မော်လမြိုင် စက်ရုံမှ ထုတ်လုပ်သည့် Moulmein Whisky တံဆိပ်အတိုင်း ဆက်လက်ထုတ်လုပ်မည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်ဥက္ကဋ္ဌမှ စက်မှုဝန်ကြီးဌာန၏ တာဝန်ရှိသူအား မည်သည့်အတွက် သတ္တုတွင်းလုပ်ငန်း ကုမ္ပဏီအား ပေးကြောင်းနှင့် အရက်ချက်သည့်လုပ်ငန်းနှင့် ငှားရမ်းခြင်း (သို့မဟုတ်) သတ္တုလုပ်ငန်း အနေဖြင့် ငှားရမ်းခြင်းကို ရှင်းလင်းရန် ပြောကြားရာတာဝန်ရှိသူမှ ကုမ္ပဏီ အနေဖြင့် အရက်ချက် လုပ်ငန်းလည်း ရှိ၍ ငှားခဲ့ခြင်းဖြစ်ကြောင်း၊ မြန်မာ့စီးပွားရေးဦးပိုင်မှ ဆက်လက်ဆောင်ရွက်ရန် ဖြစ်သော်လည်း ဆောင်ရွက်နိုင်ခြင်း မရှိ၍ တင်ဒါခေါ်ယူခဲ့ခြင်း ဖြစ်ပါကြောင်း၊ တင်ဒါအောင်သူအား ပေးခဲ့ခြင်းဖြစ်ပါကြောင်း ရှင်းလင်း တင်ပြပါသည်။

ကုမ္ပဏီမှ တာဝန်ရှိသူက မန္တလေးတွင် ရွှေမြင်းပျံ အရက်ချက်စက်ရုံရှိကြောင်း၊ စက်မှုဝန်ကြီး ဌာနမှ တင်ဒါခေါ်သည့်အခါ ယှဉ်ပြိုင်ခဲ့ရာ အောင်မြင်ခဲ့ပါကြောင်း၊ အရက်ချက်လုပ်ငန်းသည် စက်မှု လုပ်ငန်းတွင် ပါ၍ လျှောက်ထားခဲ့ကြောင်း၊ ရွှေမြင်းပျံသည် ကုမ္ပဏီအမည် မဟုတ်ပဲ တစ်ဦးတည်းပိုင် လုပ်ငန်းဖြစ်ပါကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင် အဖွဲ့ဝင် ဒေါက်တာအောင်ထွန်းသက်မှ သတ္တုတွင်းကုမ္ပဏီ အမည်ဖြင့် စက်မှုဝန်ကြီး ဌာနသို့ လျှောက်ထားသည့်အခါ ထုတ်လုပ်ခြင်းလုပ်ငန်းနှင့် မလျှောက်ပဲ မည်သည့်အတွက် လျှောက်ထား သည်ကို သိလိုကြောင်း မေးမြန်းရာတွင် အတွင်းရေးမှူးမှ ယခင်ကုမ္ပဏီတခုအား လုပ်ငန်းရည်ရွယ်ချက် (၅)မျိုး ပေးသည့်အတွက် ဥပဒေနှင့်အညီ ဆောင်ရွက်ရန်ဖြစ်သည့်အခါ ယခင်က သတ္တုတွင်းကုမ္ပဏီ



MIC-1/2015

အမည်ဖြင့် အရက်ချက်စက်ရုံလုပ်ငန်း ဆောင်ရွက်ရန်လိုပါက ဆောင်ရွက်ခွင့်ပေးရကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်အဖွဲ့ဝင် ပြည်ထောင်စုရှေ့နေချုပ် ဒေါက်တာထွန်းရှင်က ဈေးကွက် စီးပွားရေးစနစ်အရ လုပ်ငန်း ရည်ရွယ်ချက်အား ကန့်သတ်လိုက်သည့် အခါ ဝန်ဆောင်မှုလုပ်ငန်း၊ ရောင်းဝယ်ရေးလုပ်ငန်း စသည့်ဖြင့် ကန့်သတ်လိုက်သည့်အတွက် ဖြစ်ကြောင်း၊ကုမ္ပဏီမှတ်ပုံတင်ရာတွင် ထုတ်လုပ်မှုလုပ်ငန်း အနေဖြင့် အရက်ထုတ်လုပ်ရောင်းချသည့် လုပ်ငန်း လျှောက်ထားခြင်း ဖြစ်ကြောင်း ဆွေးနွေးပါသည်။

ကော်မရှင် အတွင်းရေးမှူးက ကုမ္ပဏီအမည်အား ပြောင်းလိုက်က ကောင်းမည်ဖြစ်ကြောင်း၊ စက်မှုဝန်ကြီးဌာနမှ လေးလံတင်သော ကုမ္ပဏီများ အကုန်လာမည်ဖြစ်ကြောင်း ပြောကြားပြီး ဒေါက်တာ အောင်ထွန်းသက်မှ မွန်ပြည်နယ်တွင် လုပ်ငန်း ဆောင်ရွက်ရာတွင် ဒေသခံဝန်ထမ်းများ ပါဝင်ခြင်း ရှိ-မရှိ သိလိုကြောင်း ပြောကြားပါသည်။

ကုမ္ပဏီ၏တာဝန်ရှိသူက ဝန်ထမ်းအသစ်အား မော်လမြိုင်က ခေါ်မည်ဖြစ်ပြီး လက်ရှိ စက်မှု ဝန်ကြီးဌာနက ဝန်ထမ်းများအား လွှဲပြောင်းယူ၍ စီမံခန့်ခွဲမည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပြီး စက်မှုဝန်ကြီးဌာနမှ တာဝန်ရှိသူမှ စက်ရုံအနေဖြင့် မော်လမြိုင်ရမ်နှင့် ဝီစကီထုတ်နေကြောင်း၊ ဒေသခံများ ကိုသာ ရောင်းချရသည့်အတွက် ယခုထိပစ္စည်းလက်ကျန်များရှိကြောင်းနှင့် မြန်မာ့စီးပွားရေး ဦးပိုင် လီမိတက်မှ လွှဲပြောင်းယူမည်ပြောပြီး မယူသဖြင့် အရှုံးပေါ်နေကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်ဥက္ကဋ္ဌမှ စက်မှုဝန်ကြီးဌာနမှ ၂၀၁၃ ခုနှစ်တွင် ငှားရမ်းထားခြင်းဟုတ်-မဟုတ်နှင့် စက်မှုဝန်ကြီးဌာန လက်ထက်တွင် လုပ်ငန်းဆောင်ရွက်နေဆဲ ဟုတ်-မဟုတ် မေးမြန်းရာ စက်မှုဝန်ကြီး ဌာနမှ ၂၀၁၃ ခုနှစ်တွင် ငှားရမ်းထားခြင်း ဖြစ်ကြောင်းပြောကြားပြီး ကော်မရှင်ဥက္ကဋ္ဌမှ ကုမ္ပဏီအား အမည်ပြောင်း တင်ပြရန် ဖြစ်ကြောင်း ပြောကြားပါသည်။

ကော်မရှင်အစည်းအဝေးမှ မန္တလေးရွှေသူငယ်ချင်း သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက် (Mandalay Golden Friend Mining Co., Ltd.)မှ စက်မှုဝန်ကြီးဌာနပိုင် မြေကို ငှားရမ်း၍ B.O.T စနစ်ဖြင့်အဆင့်မြင့် ပြည်တွင်းဖြစ်အရက် ထုတ်လုပ် ဖြန့်ဖြူးခြင်းလုပ်ငန်းအား ကုမ္ပဏီအမည် ပြောင်း၍ တင်ပြလာပါက ခွင့်ပြုမိန့် ထုတ်ပေးရန် ဆုံးဖြတ်ပါသည်။

**၁၁။ Dawei Development Public Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်မြို့၊ ထိန်သစ်ရပ်ကွက်ရှိ မြေ(၁၅.၅၃)ဧကတွင် Shopping Center Building ၊ Multi Purpose Hall Building ၊ Shop House(၂၂)လုံး တည်ဆောက်ပြီး DDPC Shopping Center အမည်ဖြင့် ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

ကော်မရှင်အတွင်းရေးမှူး၊ ဦးအောင်နိုင်ဦးက အမှာစာပါအကြောင်းအရာအား ဖော်ပြလျက် အဓိကအချက်များကိုကုမ္ပဏီမှဆွေးနွေးတင်ပြပေးရန်ဖိတ်ခေါ်ပါသည်။

| ဆုံးဖြတ်ချက် | | ဆောင်ရွက်ရန် |
|---|---|---|
| (စ) | Goshu-A1 Eco Business Co., Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရေဆိုးရေညစ်များ ဓာတ်ခွဲစမ်းသပ်၍ လိုအပ်သည့် အကြံပြုချက်များပေးခြင်း၊ သန့်စင်စက်များ တပ်ဆင်ပေးခြင်း၊ ပြုပြင်ထိန်းသိမ်းပေးခြင်း စသည့် ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန် တင်ပြလာခြင်း နှင့်စပ်လျဉ်း၍ နိုင်ငံတကာ စံနှုန်းသတ်မှတ်ခြင်း နှင့် ကိုက်ညီခြင်း ရှိ-မရှိ စိစစ်နိုင်ရန် သိပ္ပံနှင့် နည်းပညာ ဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီ |
| (ဆ) | အာကာဦးကုမ္ပဏီလီမိတက်မှ ပဲမျိုးစုံကြိတ်ခွဲခြင်းနှင့် သန့်စင်ခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့် ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး စက်မှုဝန်ကြီးဌာန |
| (ဇ) | မန္တလေးရွှေသူငယ်ချင်း သတ္တုတူးဖော်ရေး ကုမ္ပဏီ လီမိတက် (Mandalay Golden Friend Mining Co., Ltd.)မှ စက်မှုဝန်ကြီးဌာနပိုင် မြေကို ငှားရမ်း၍ B.O.T စနစ်ဖြင့်အဆင့်မြင့် ပြည်တွင်းဖြစ်အရက် ထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန်နှင့် ကုမ္ပဏီ အမည်ပြောင်း၍ တင်ပြလာပါက ခွင့်ပြုမိန့် ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး စက်မှုဝန်ကြီးဌာန၊ ကျန်းမာရေးဝန်ကြီးဌာန |
| (ဈ) | Dawei Development Public Co., Ltd. မှ တနင်္သာရီတိုင်း ဒေသကြီး၊ ထားဝယ်မြို့၊ ထိန်သစ်ရပ်ကွက်ရှိ မြေ(၁၅.၅၃)ဧကတွင် Shopping Center Building ၊ Multi Purpose Hall Building ၊ Shop House(၂၂)လုံး တည်ဆောက်ပြီး DDPC Shopping Center အမည်ဖြင့် ဝန်ဆောင်မှု လုပ်ငန်းအား ဆောင်ရွက် ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့် ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး တနင်္သာရီတိုင်း ဒေသကြီး အစိုးရအဖွဲ့ |